

# تحفة الأطفال

# သဂျ်ဝီးဒ်


**စီစစ်တည်းဖြတ်သူ**

**မော်လာနာ ကာရီ မိုဟမ္မဒ် အလီ**

ကျောင်းအုပ်ဆရာကြီး အရဗီတက္ကသိုလ်၊ ပျော်ဘွယ်မြို့

**ပြုစုသူ**

**မော်လာနာ ဟာဖိဇ် ကာရီ မိုဟမ္မဒ် အိလ်ယားစ် (အဇီဇီ)**

ကျောင်းအုပ်ဆရာကြီး ဂျာမေ့အာဟ်အတ်စ်မာအ်၊ သာစည်မြို့



# တည်းဖြတ်သူ၏အမှာစာ

၁၇-၂-၂၀၀၀

تجويد ပညာကို စတင်သင်ယူ မှတ်သားသူများအတွက် လည်းကောင်း ၊ လေ့လာလိုက်စား ဆည်းပူးရယူလိုသူများ အတွက်လည်းကောင်း مولوی حافظ محمد إلياس ပြုစု ပြန်ဆိုအပ်သော ဤကျမ်း စာစောင်ငယ် تحفةالأطفال ကိုကြည့်ရှုခွင့်ရခဲ့ပါသည်။ကျမ်းငယ်တစ်စောင်ပင် ဖြစ်လင့်ကစား ပညာရပ်၏အရေးကြီး လိုအပ်သောဥပဒေများအား စေ့ငှစုံလင်စွာဖော်ပြထားခြင်းကြောင့် အထက်ဖော်ပြပါပုဂ္ဂိုလ်များအတွက် ဤကျမ်းငယ်သည် အထူးအကျိုးရှိလိမ့်မည်ဟု ယုံကြည်မျှော်လင့်မိပါသည်။

**(အလ္လာဟ်အရှင်မြတ်သည်ပြုစုတင်ပြသူအတွက်နှစ်ဘဝအောင်မြင်မှုများချီးမြှင့်တော်မူပါ)**

**မောင်လာနာကာရီမိုဟမ္မဒ်အလီ**

(ကျောင်းအုပ်ဆရာကြီး)

အရဗီတက္ကသိုလ်၊ပျော်ဘွယ်မြို့

## ( ပြုစုသူ၏ အမှာစာ )

သနားကြင်နာတော်မူသော အလ္လာဟ်အရှင်မြတ်၏နာမတော်ဖြင့် အစပြုပါ၏။ ချီးကျူးခြင်းအပေါင်းတို့သည် စကြာဝဠာကို ဖန်ဆင်းတော်မူသော အရှင်မြတ် အဖို့သာတည်း။ နဗီတမန်တော်ချုပ် မိုဟမ္မဒ်သခင်၏ အပေါ်တွင် ဒရူးဒ်မေတ္တာ ပို့သပါ၏။

▪ ကျမ်းမြတ်ကုရ်အာန်သည်ကား အရှင်မြတ်၏ထံတော်မှ ချစ်နဗီ၏ နှလုံးသားထက်ဝယ်ကျရောက်ခဲ့ပြီး ၊ အရှင်မြတ်ထုတ်ပြန်ချမှတ်ခဲ့သော ကျမ်းကြီး ၊ကျမ်းငယ် ပေါင်းစုံ၏အနှစ်သာရကျမ်းကြီးဖြစ်၍ ကောင်းကင်ကျကျမ်းကြီးများ၏ မကိုဋ်သရဖူကျမ်းချုပ်လည်း ဖြစ်တော်မူပါသည်။

▪ အလ္လာဟ်အရှင်မြတ်ကိုယ်တော်တိုင်ဤကျမ်းမြတ်အားတာဝန်ယူ ထိန်းသိမ်းတော်မူမည် ဖြစ်ကြောင်းကိုလည်း မိန့်မြွက်ထားတော်မူပြီး ဟာဖိဇ်တို့၏ နှလုံးသားအား သင်ပုန်းအဖြစ်နှင့် မှတ်သားစေပြီး ကမ္ဘာတစ်သက် မည်သို့မျှ ဖျက်၍မရနိုင်သော ကျမ်းမြတ်လည်းဖြစ်ပေသည်။ ကျမ်းမြတ်ကုရ်အာန်ကို ဖတ်ရွတ်ရန် ၊ အာဂုံကျက်မှတ်ရန်၊ တရားရယူရန်အတွက်လည်း လွယ်ကူစေတော်မူ၏ ။

▪ အကြင်မည်သူမဆို အရှင်မြတ်နှင့် တိုက်ရိုက် စကားပြောဆိုလိုပါလျှင် ကျမ်းမြတ်ကုရ်အာန်ကို ရွတ်ဖတ်ခြင်းဖြင့် ပြောဆိုနိုင်ကြောင်း၊ ချစ်နဗီအားဖူးမြော်လိုသော် ကျမ်းမြတ်အား ရွတ်ဖတ်ခြင်းဖြင့်လုံလောက်ကြောင်း ၊ ချစ်နဗီ၏ ဘဝသက်တမ်းကို လေ့လာလိုသူတိုင်း ကျမ်းမြတ်ကို ဖတ်ရွတ်ခြင်းဖြင့် သိမြင်နိုင်ကြောင်း ဩဝါဒ မိန့်ခွန်းတော်များလည်း လာရှိထားပေသည်။ ဤကဲ့သို့ အကျိုးရှိ၍ ထူးကဲမြင့်မြတ်လှစွာသော ကျမ်းတော်မြတ် ကုရ်အာန်ကို ပီသ

မှန်ကန် ဌာန်ကရိုဏ်းကျနစွာ ရွတ်ဖတ်ခြင်း (သဂျ်ဝီးဒ်) ပညာရပ်သည် လွန်စွာအရေးကြီးလှပေ၏။

▪ သဂျ်ဝီးဒ်ပညာရပ်သည် အရှင်မြတ်ထံတော်ပါးမှ ကောင်းကင်တမန်တော် ဂျိဗ်ရာအီးလ်သို့ ၊ ကောင်းကင်တမန်တော်ထံမှ နဗီတမန်တော်ချုပ်ထံသို့ ၊ ချစ်နဗီထံတော်မှ ဆွဟာဗာများထံသို့ ၊ ဆွဟာဗဟ်များထံမှ ပညာရှင်ကြီး များထံသို့ ၊ပညာရှင်ကြီးများထံမှကျွန်တော်တို့ထံသို့တိုင် တစ်ဆင့်ပြီးတစ်ဆင့် ရောက်ရှိလာခဲ့ပေသည်။

▪ ကျမ်းတော်မြတ်ကုရ်အာန်အားပီသမှန်ကန်စွာဖတ်နိုင်ရန် ကြိုးပမ်းခြင်းသည် **ဝါဂျစ်ဗ်** ဖြစ်၍ ဂရုမစိုက်ဘဲဖတ်ရွတ်ခြင်းသည် **အပြစ်**ဖြစ်လေသည်။

▪ ချစ်နဗီက"မြောက်များစွာသောသူတို့သည် ကျမ်းမြတ်ကုရ်အာန်ကို ဖတ်ရွတ် ကြသော်လည်း ကျမ်းမြတ်ကုရ်အာန်က ထိုသူတို့အား ကျိန်ဆဲလျှက်ရှိပေ သည်" ဟု မိန့်ထားပါသဖြင့် ပညာသင်ယူသူ ကျောင်းသားများပင်မက မွတ်စ်လင်မ်တိုင်းအတွက် ပီသမှန်ကန်စွာ ဖတ်နိုင်ရန် သင်ယူဆည်းပူးသင့် ကြပေသည်။

▪ ဘာသာစာပေတိုင်းတွင်ဖတ်နည်းသဒ္ဒါရှိသကဲ့သို့ကျမ်းမြတ်တွင်သဒ္ဒါကိုထား ပေဦး၊ ဗျည်းအက္ခရာအသံထွက် နှင့် သရ တို့မှားလျှင်ပင် အဓိပ္ပါယ်မှားယွင်းပြီး နမားဇ်ပျက်ရလေ၏။

▪ ထို့အတွက်ကြောင့် သဂျ်ဝီးဒ်ပညာရပ်သည် အလွန်အရေးကြီးလှပါကြောင်း ကို မွတ်စ်လင်မ်တိုင်း နားလည်သဘောပေါက်ပြီး ကျမ်းတော်မြတ်ကုရ်အာန် ကို ဌာန်းကရိုဏ်းကျဖတ်ရန်၊ ကြိုးပမ်းအားထုတ်နိုင်ရန် ရည်ရွယ်လျှက် လက်ရှိ

ပညာ သင်ယူလျှက်ရှိသော တပည့်များ၏ စိတ်အားထက်သန်မှုကို အခြေခံပြီး ဤ **تحفةالأطفال** ကို စုစည်းရေးသားလိုက်ရပေသည်။

▪ ဤစာမူအား စာရေးသူ၏မာမူတော်သူ ပျော်ဘွယ် အရဗီတက္ကသိုလ်မှ ကျောင်းအုပ်ဆရာကြီး မောင်လာနာကာရီမိုဟမ္မဒ်အလီက စီစစ်တည်းဖြတ်ပေးလျှက် **تحفةالأطفال** အမည်ကိုလည်းချီးမြှင့်ပေးခဲ့ပါသည်။

▪ (၁၇-၂-၂၀၀၀)နေ့စွဲပါအမှာစာလွှာကိုလည်း ရေးသားချီးမြှင့်ခဲ့ပြီး(၁၅-၃-၂၀၀၀) တွင် အလ္လာဟ်အရှင်မြတ် အမိန့်တော်ခံယူသွားခဲ့ပါသည်။

( **ကျေးဇူးရှင် ဆရာကြီးအား ကဗရ်၌ လင်းဝင်းချောင်ချိစွာ ထားတော်မူ၍ ဝိညာဉ်ကို အစ်လ်ယီးန်၌ စံမြန်းစေတော်မူပါ။ ကေယာမသ်ဟာရှရ်တွင် ဂျန္နသုလ်ဖိရ်ဒေါင်က်စ် ကို ချီးမြှင့်တော်မူပါအရှင် ..... အာမီးန်**)

▪ စီစစ်တည်းဖြတ်သောဆရာသခင်၊ မှီငြမ်းသောကျမ်းစာများနှင့်အတူ ဆည်းပူးသင်ယူသူများ ရှေ့မှောက်သို့ ဤသခ်န်းစာများအား တင်ဆက်လိုက်ရပေ၏။ ဤကျမ်းငယ်မှ အကျိုးကျေးဇူးများကို ရယူခံစားနိုင်ကြပြီး ကျမ်းမြတ်ကုရ်အာန်ကို ဌာန်ကရိဏ်းကျ ပီသမှန်ကန်စွာ ရွတ်ဖတ် အမလ်ပြုကြပါလျှင် ဤ **تحفةالأطفال** ကို ရေးသားပြုစုရကျိုးနပ်ပြီးဖြစ်ပါသည်။

**မော်လဝီဟာဖိဇ်ကာရီမုဖ်သီမိုဟမ္မဒ်အိလ်ယားစ် (အဇ်ဇီ+မဟ်မူဒီ)**

ဂျာမေ့အဟ်အတ်စ်မာအ် အလ်အစ္စလာမီယဟ်

ကျောင်းအုပ်ဆရာကြီး၊ သာစည်မြို့



# 🕮 သဂျ်ဝီးဒ်ပညာရပ်အကြောင်း

۞ لُغَةً ۞ ခေါ်အဘိဓါန်အရ သဂျ်ဝီးဒ်၏အဓိပ္ပါယ်မှာ လုပ်ငန်းတစ်ခုအား ကောင်းသည့် ထက်ကောင်းအောင်ပြုလုပ်ခြင်းကိုခေါ်သည်။

۞ اِصْطِلَاحًا ۞ ခေါ်ပညာရပ်ဆိုင်ရာဝေါဟာအဓိပ္ပါယ်အရ အက္ခရာတိုင်းကို ၎င်း၏ ထွက်ပေါက်များမှ အက္ခရာတို့၏ အရည်အသွေးများနှင့် တစ်ကွ ထုတ်ဖော်ခြင်း ကိုခေါ်သည်။

۞ اَلْغَرَضُ ۞ ခေါ်သဂျ်ဝီးဒ်၏ရည်ရွယ်ချက်မှာကုရ်အာန်ကျမ်း တော်မြတ်ကို တိကျ မှန်ကန်စွာ ဖတ်ရွတ်ရန် ဖြစ်ပါသည်။

۞ اَلْمَوْضُوْعُ ۞ ခေါ် သဂျ်ဝီးဒ်၏ အဓိကလေ့လာချက်မှာ ဗျည်းအက္ခရာများဖြစ်ပါသည်။

۞ مَرْتَبَةُالتَّجْوِيْدِ ۞ ခေါ် သဂျ်ဝီးဒ်၏အဆင့်အတန်းမှာ ဘာသာစာပေအပေါင်းတို့ တွင် အထွတ်မြတ်ဆုံးဖြစ်သည်။

۞ حُكْمُ التَّجْوِيْدِ ۞ ခေါ် အမိန့်ပညတ်တော်မှာ ကုရ်အာန်ကျမ်းတော်မြတ်ကို ဥာန်ကရိဏ်းကျကျ မှန်ကန်စွာ ရွတ်ဖတ် ခြင်းသည် မွတ်စ်လင်မ်တိုင်း အပေါ် فَرْضُ عَيْنٍ ဖြစ်ပြီး ၊ သဂျ်ဝီးဒ်ပညာရပ် အလုံးစုံတို့ကို ဆည်းပူးခြင်းသည် فَرْضُ كِفَايَةٍ ဖြစ်သည်။

۞ مَأْخَذُ التَّجْوِيْد ခေါ် သဂျ်ဝီးဒ်ပညာ၏မူလဖြစ်လာရာစမ်းဂသည် အလ္လာဟ် အရှင် မြတ်ထံတော်မှ ကျရောက်တော်မူသောပညာရပ်ဖြစ်ပေသည်။

## သင်ခန်းစာ (၁)

### لَحْنٌ အကြောင်း

အမေး ✍ لَحْنٌ ဆိုသည်မှာအဘယ်နည်း၊ဘယ်နှစ်မျိုးရှိပါသနည်း။

အဖြေ ✍ لَحْنٌ ဆိုသည်မှာသဂျ်ဝီးဒ်ဥပဒေနှင့်ဆန့်ကျင်၍မှားယွင်းစွာ ဖတ်ခြင်း ကို لَحْنٌ ဟုခေါ်သည်။

ယင်းသို့ဖတ်ရာတွင် ........

۞ لَحْنٌ جَلِيٌّ ထင်ရှားပေါ်လွင်သောအမှားကြီး

۞ لَحْنٌ خَفِيٌّ ဖုံးကွယ်နေသောအမှားသေးဟူ၍နှစ်မျိုးရှိသည်။

အမေး ✍ لَحْنٌ جَلِيٌّ အမှားကြီးဘယ်နှစ်မျိုးရှိပါသနည်း။ ၎င်းတို့ကိုဖေါ်ပြပါ။

အဖြေ။ ✍ لَحْنٌ جَلِيٌّ အမှားကြီးသည် (၄) မျိုးများတတ်ပါသည်။ ၎င်းတို့မှာ ...

① အက္ခရာတစ်လုံးအား အခြားတစ်လုံးနှင့် ပြောင်းလွဲ၍ဖတ်ခြင်း။

ဥပမာ ⇒ اَلْحَمْدُ ကို اَلْهَمْدُ ဟု ဖတ်ခြင်း။

② အက္ခရာတစ်လုံးတိုး၍ဖတ်ခြင်း။

ဥပမာ ⇒ اَلْحَمْدُلِلّٰهِ ကို اَلْحَمْدُلِلّٰهِىْ ဟု ဖတ်ခြင်း။

③ အက္ခရာ တစ်လုံး လျော့၍ဖတ်ခြင်း။

ဥပမာ ⇒ لَمْ يُوْلَدْ ကို لَمْ يُلَدْ ဟု ဖတ်ခြင်း။

④ ဇဗရ် ၊ ဇေရ် ၊ ပေးရှ် တို့ကိုလွဲလွဲမှားမှား ဖတ်ခြင်း ။

ဥပမာ ⇒ أَنْعَمْتَ ကို أَنْعَمْتَ ဟု ဖတ်ခြင်း။

အမေး ✍ لَحْنٌ خَفِيٌّ အမှားအသေးသည် မည်သို့မှားယွင်းခြင်းကို ခေါ်သနည်း။

အဖြေ ✍ لَحْنٌ خَفِيٌّ အမှားအသေးဆိုသည်မှာ အက္ခရာများကို صِفَاتٌ အရည်အချင်းများ မပါဘဲ ဖတ်ရွတ်ခြင်းကို ခေါ်သည်။

ဥပမာ ⇒ إِدْغَامٌ ဖတ်ရမည့်နေရာတွင် إِظْهَارٌ လုပ်၍ဖတ်ခြင်း၊ تَفْخِيْمٌ ပြည့်ပြည့် တုတ်တုတ်ဖတ်ရမည့်နေရာ၌ تَرْقِيْقٌ ပေါ့ပါးစွာဖတ်ခြင်း စသည်တို့ဖြစ်သည်။

မှတ်ချက် ☞ لَحْنٌ جَلِيٌّ အမှားကြီးသည် "ဟရာမ်" ထိုက်သည်။ အချို့နေရာများ တွင်နမားဇ်ပင်ပျက်စေသည်။ لَحْنٌ خَفِيٌّ သေးသောအမှားမှာ "မက်ရူဟ်" ထိုက်၍ ရှောင်ရှားသင့်ပေသည်။

ဢဨဢဨ



# သင်ခန်းစာ (၂)

## ❦ အရဗီဗျည်းအက္ခရာများ နှင့် သရများအကြောင်း ❦

အမေး ✍ အရဗီဗျည်းအက္ခရာများ၏ အသံထွက်အမှန်ကို ဖေါ်ပြပါ။

အဖြေ ✍ အရဗီဗျည်းအက္ခရာများ၏ အသံထွက်အမှန်မှာ .....

أَلِفٌ۔ بَاءٌ۔ تَاءٌ۔ ثَاءٌ۔ جِيْمٌ۔ حَاءٌ۔ خَاءٌ۔ دَالٌ۔ ذَالٌ۔ رَاءٌ۔ زَاىٌ۔ سِيْنٌ۔ شِيْنٌ۔ صَادٌ

ضَادٌ۔ طَاءٌ۔ ظَاءٌ۔ عَيْنٌ۔ غَيْنٌ۔ فَاءٌ۔ قَافٌ۔ كَافٌ۔ لَامٌ۔ مِيْمٌ۔ نُوْنٌ۔ وَاوٌ۔ هَاءٌ۔ هَمْزَةٌ۔ يَاءٌ

မှတ်ချက် ☞ لا (လာမ်၊အလစ်ဖ်)သည် ဗျည်းအက္ခရာ တစ်လုံးမဟုတ်။ اَلِفٌ နှင့် لَامٌ နှစ်လုံးကိုပေါင်းစပ်၍ ရေးသားထားခြင်းဖြစ်ပေသည်။ အရဗီစာပေတွင် ဗျည်းအက္ခရာ (၂၉) လုံးသာရှိပါသည်။

အမေး ✍ အရဗီစာပေ၏ သရ များကို ဖေါ်ပြပါ။

အဖြေ ✍ အရဗီစာပေ၏ သရ များမှာ .........

- ـَـ ဇဗရ် ကို فَتْحَةٌ ဟူ၍လည်းကောင်း
- ـِـ ဇေရ် ကို كَسْرَةٌ ဟူ၍လည်းကောင်း
- ـُـ ပေးရှ် ကို ضَمَّةٌ ဟူ၍လည်းကောင်း ခေါ်ဆိုပြီး ၎င်းသရသုံးလုံးကို حَرَكَاتٌ ဟုခေါ်လေသည်။ ထို့နောက် ـْـ ကို سُكُوْنٌ ဟူ၍လည်း

ကောင်း ၊ ـــٍـــًـــٌ ဒိုးဇဗရ်၊ဒိုးဇေရ်၊ဒိုးပေးရှ် ကို تَنْوِيْنٌ ဟူ၍လည်းကောင်း အသီးသီး ခေါ်ဆိုလေသည်။

မှတ်ချက် ☞ အရဗီဗျည်းအက္ခရာများကို ဖသ်ဟဟ်၊ကတ်စ်ရဟ်၊ဇွမ္မဟ် တို့နှင့် ပေါင်းစပ်၍ဖတ်လျှင် ဖြစ်ပေါ်လာသော အသံထွက်အမှန်မှာ أَ အ၊ إِ အိ၊ أُ အု بَ ဗ၊ بِ ဗိ၊ بُ ဗု ဟု အသံထွက်လေသည်။

ၹၹ

## သင်ခန်းစာ (၃)

## مَخْرَجٌ အကြောင်း

အမေး ✍ مَخْرَجٌ ဆိုသည်မှာ အဘယ်နည်း။

အဖြေ ✍ مَخْرَجٌ ဆိုသည်မှာနှုတ်လျှာမှအက္ခရာထွက်သောနေရာကိုခေါ်သည်

အမေး ✍ အက္ခရာ၏ထွက်သောနေရာကိုသိလိုလျှင်မည်သို့ပြုလုပ်ရမည်နည်း။

အဖြေ ✍ အက္ခရာတစ်ခု၏ مَخْرَجٌ ကိုသိလိုလျှင်ယင်းအက္ခရာအား سَاكِنٌ (သို့) تَشْدِيْدٌ ပါသောအက္ခရာပြုလုပ်ပြီးၚင်းအက္ခရာ၏အလျှင် فَتْحَةٌ ပါသော أَلِفٌ ကို တပ်၍ပေါင်းစပ်ဖတ်သော် အသံရပ်တန့်သောနေရာကို ယင်းအက္ခရာ၏ مَخْرَجٌ ဟုယူဆရမည်။ ဥပမာ ⇒ أَجْ-أَجَّ

# သင်ခန်းစာ (၄)

## ❦ သွားများ အကြောင်း ❦

အရဗီအက္ခရာတိုင်း၏ مَخَارِجُ များကိုသိရှိရန်သွားများနှင့်သက်ဆိုင်ပေသည်။ သို့ဖြစ်၍ ဦးစွာသွားများ၏အရည်အတွက်နှင့် အမည်များကိုဖေါ်ပြအပ်သည်။

လူတို့တွင် သွား(၃၂)ချောင်း ရှိပြီးၚင်းတို့မှ သွားငယ်များနှင့် အံသွားများဟူ၍ နှစ်မျိုးရှိလေသည်။ သွားငယ်များတွင်အမည်(၃)မျိုးရှိပြီးအံသွားများတွင်လည်း အမည်(၃)မျိုးရှိလေသည်။

သွားငယ်များတွင် ❶ اَلثَّنَايَا ❷ اَلرَّبَاعِيَاتُ ❸ اَلْأَنْيَابُ ဟူ၍လည်းကောင်း

အံသွားများတွင် ❶ اَلضَّوَاحِكُ ❷ اَلطَّوَاحِنُ ❸ اَلنَّوَاجِذُ ဟူ၍လည်းကောင်း အသီးသီး ခေါ်ဆိုလေသည်။

အမေး ✍ သွားငယ်များကိုရှင်းပြပါ။

အဖြေ ✍ သွားငယ်များမှာ စုစုပေါင်း (၁၂) ချောင်းရှိသည်။ၚင်းတို့မှာ……

① ရှေ့တည့်တည့်မှအထက်သွားကြီးနှစ်ချောင်းကို اَلثَّنَايَا الْعُلْيَا ဟုခေါ်ပြီး ရှေ့တည့်တည့်မှအောက်သွားကြီးနှစ်ချောင်းကို اَلثَّنَايَا السُّفْلٰى ဟုခေါ်ပါသည်။

② اَلثَّنَايَا နှင့်ပူးကပ်လျှက်ရှိသောဝဲယာနှစ်ချောင်းစီ အထက် ၊ အောက် သွားလေးချောင်းကို اَلرَّبَاعِيَاتُ ဟု ခေါ်ပါသည်။

③ اَلرُّبَاعِيَاتُ များနှင့်ကပ်လျှက်ရှိသော အထက် ၊ အောက် ၊ ဝဲ နှင့် ယာ နှစ်ချောင်းစီ အစွယ်လေးချောင်းကို اَلْأَنْيَابُ ဟုခေါ်ပါသည်။

အမေး ✍ အံသွားများကိုဖေါ်ပြပါ။

အဖြေ ✍ အံသွားများမှာ စုစုပေါင်း အချောင်း (၂၀) ဖြစ်သည်။

① اَلْأَنْيَابُ နှင့် ပူးကပ်လျှက်ရှိသော အထက်၊အောက်၊ဝဲ၊ယာ သွားနှစ်ချောင်းစီ၊ သွားလေးချောင်းကို اَلضَّوَاحِكُ ဟုခေါ်ပါသည်။

② ၎င်း اَلضَّوَاحِكُ နှင့်ပူးကပ်လျှက်ရှိသောဝဲ၊ယာ၊အထက်၊အောက် သုံးချောင်းစီ ပေါင်း (၁၂) ချောင်းကို اَلطَّوَاحِنُ ဟုခေါ်ပါသည်။

③ ၎င်း اَلطَّوَاحِنُ နှင့် အထက် ၊ အောက် နှစ်ချောင်းစီ ပူးကပ်လျှက်ရှိသော နောက် ဆုံးသွားလေးချောင်းကို اَلنَّوَاجِذُ ဟုခေါ်ပါသည်။

➥ ယင်းအံသွား (၃) မျိုးလုံးကို اَلْأَضْرَاسُ ဟုခေါ်ပါသည်။

ജ്ജ ജ്ജ

# الأســنان ( ٣٢ )



# သင်ခန်းစာ (၅)

## بَابُ مَخَارِجِ الْحُرُوْفِ

### ❦ အက္ခရာများ၏ ထွက်သောနေရာများအကြောင်း ❦

သဂျ်ဝီးဒ်ပညာရှင်အများစုထံ၌ ဗျည်းအက္ခရာများမှာ(၂၉)လုံးရှိပြီး ၎င်းအက္ခရာ(၂၉)လုံးသည် (၁၇)နေရာမှထွက်လေသည်။ ၎င်း(၁၇)ခုသည် အကျဉ်းအားဖြင့် (၅)နေရာမှထွက်လေသည်။ ၎င်းတို့မှာ

① اَلْجَوْفُ ခေါ် ပါးစပ်လေဟာနယ် ② اَلْحَلْقُ ခေါ် လည်ချောင်း

③ اَللِّسَانُ ခေါ် နုတ်လျှာ ④ اَلشَّفَتَانِ ခေါ် နှုတ်ခမ်းနှစ်ခု

⑤ اَلْخَيْشُوْمُ ခေါ်နှာတံတို့ဖြစ်သည်။

➥ ❶ اَلْجَوْفُ အကြောင်း

အမေး ✍ اَلْجَوْفُ တွင် مَخْرَجٌ မည်မျှရှိပြီး၎င်းမှအက္ခရာမည်မျှထွက်သနည်း

အဖြေ ✍ اَلْجَوْفُ တွင် مَخْرَجٌ တစ်ခုရှိပြီး၎င်းမှ حُرُوْفُ الْمَدَّةِ စာလုံးများထွက်သည်။

အမေး ✍ حُرُوْفُ الْمَدَّةِ ဆိုသည်မှာ အဘယ်နည်း။

အဖြေ ✍ حُرُوْفُ الْمَدَّةِ ဆိုသည်မှာ أَلِفٌ အလျှင် فَتْحَةٌ ရှိခြင်း၊ وَاوٌسَاكِنَةٌ အလျှင် ضَمَّةٌ ရှိခြင်း ၊ يَاءٌسَاكِنَةٌ အလျှင် كَسْرَةٌ ရှိခြင်းတို့ဖြစ်ပါသည်။

ဥပမာ ⇒ نُوْحِيْهَا ၎င်းအက္ခရာများကို اَلْحُرُوْفُ الْهَوَائِيَّةُ ဟုခေါ်ပါသည်။

➥ ❷ اَلْحَلْقُ အကြောင်း

အမေး ✍ اَلْحَلْقُ တွင် مَخْرَجٌ မည်မျှရှိ၍၎င်းမှအက္ခရာမည်မျှထွက်သနည်း။

အဖြေ ✍ اَلْحَلْقُ တွင် مَخْرَجٌ သုံးခုရှိ၍၎င်းမှ အက္ခရာ (၆) လုံးထွက်သည်။

➨ أَقْصَى الْحَلْقِ လည်ချောင်း၏နောက်ဆုံးပိုင်းမှ هَاءٌ နှင့် هَمْزَة တို့ထွက်သည်။

➨ وَسَطُ الْحَلْقِ လည်ချောင်း၏အလယ်ပိုင်းမှ عَيْنٌ နှင့် حَاءٌ ထွက်လေသည်။

➨ أَدْنَى الْحَلْقِ လည်ချောင်း၏အစအာခေါင်၏အဆုံးပိုင်းမှ غَيْنٌ နှင့် خَاءٌ တို့ ထွက်လေသည်။ ၎င်း အက္ခရာများကို اَلْحُرُوْفُ الْحَلْقِيَّةُ ဟု ခေါ်သည်။

➥ ❸ اَللِّسَانُ အကြောင်း

အမေး ✍ اَللِّسَانُ တွင် مَخْرَجٌ မည်မျှရှိ၍၎င်းမှအက္ခရာမည်မျှထွက်သနည်း

အဖြေ ✍ اَللِّسَانُ တွင် مَخْرَجٌ (၁၀)ခုရှိ၍၎င်းမှ အက္ခရာ(၁၈)လုံးထွက်သည်

❍ أَقْصَى اللِّسَانِ လျှာ၏နောက်ဆုံးပိုင်းနှင့် အပေါ်အာခေါင်တို့ ထိတွေ့ခြင်းဖြင့် قَافٌ ထွက်သည်။

❍ اَقْصَى اللِّسَانُ قَبْلَ قَافٌ ၏ مَخْرَجٌ မှ အနည်းငယ်ပါးစပ်ဘက်တိုး၍ ဖတ်လျှင် كَافٌ ထွက်လေသည်။ ၎င်းအက္ခရာ နှစ်လုံးကို اَلْحُرُوْفُ اللَّهْوِيَّةُ ဟုခေါ်ပါသည်။

❍ وَسَطُ اللِّسَانُ လျှာ၏ အလယ် အပေါ် အာခေါင် မှ شِيْنٌ - جِيْمٌ နှင့် حُرُوْفُ الْمَدّة မဟုတ်သော يَاءٌ တို့ ထွက်လေသည်။ ၎င်းအက္ခရာသုံးလုံးကို اَلْحُرُوْفُ الْشَجَرِيَّة ဟု ခေါ်ပါသည်။

❍ حَافَّةُ اللِّسَانُ လျှာဘေးစောင်းနှင့်အထက်အာခေါင်ရှိ اَلْأَضْرَاسُ အံသွားအရင်းမှ ضَادٌ ထွက်သည်။၎င်း ضَادٌ သည် اَلْأَضْرَاسُ الْعُلْيَا ၏ ဘယ်(သို့) ညာမှ ထွက်သည်။ ဘယ်ဘက်မှပို၍လွယ်ကူသည်။ ၎င်းကို حَافِيَّةٌ ဟု ခေါ်သည်။

❍ أَدْنَى حَافَّةِ اللِّسَانُ လျှာဘေးစောင်းအဖျားအား အပေါ်သွားငယ်များ၏ သွားဖုံးများနှင့် اَلضَّوَاحِكُ ၏သွားဖုံးဘက်သို့ငုံ၍ဖတ်လျှင် لَامٌ ထွက်သည်။ ၎င်းသည်လည်းညာဘက် (သို့) ဘယ်ဘက်မှထွက်သည်။ ညာဘက်မှပို၍ လွယ်ကူသည်။

❍ نُوْنٌ ၏ مَخْرَجٌ သည် لَامٌ ၏ مَخْرَجٌ အောက်နားမှထွက်သည်။ ၎င်းကို ဖတ်ရာတွင် اَلضَّوَاحِكُ ၏ သွားဖုံးမပါဝင်ပါ။

❍ نُوْنٌ ၏ مَخْرَجٌ အောက်နားမှ اَلثَّنَايَاالْعُلْيَا နှင့် اَلرَّبَاعِيَّات သွားဖုံများမှ رَاءٌ ထွက်သည်။ ၎င်း رَاءٌ ကို ဖတ်လျှင် လျှာ၏ကျောပိုင်းလည်းပါဝင်သည်။ ၎င်းအက္ခရာ သုံးလုံးကို طَرَفِيَّةٌ ဟု ခေါ်သည်။

❍ طَرَفُ اللِّسَانُ လျှာအဖျားနှင့် اَلثَّنَايَاالْعُلْيَا အရင်းမှ طَاءٌ۔دَالٌ۔تَاءٌ တို့ထွက်သည်။ ၎င်းအက္ခရာသုံးလုံးကို نِطَعِيَّةٌ ဟု ခေါ်ပါသည်။

❍ လျှာအဖျားနှင့် اَلثَّنَايَاالْعُلْيَا အဖျားမှ ظَاءٌ۔ذَالٌ۔ثَاءٌ တို့ထွက်လေသည်။ ၎င်းအက္ခရာသုံးလုံးကို لِثَوِيَّةٌ ဟု ခေါ်သည်။

❍ လျှာအဖျားအား اَلثَّنَايَاالسُّفْلى နှင့် اَلثَّنَايَاالْعُلْيَا အတွင်းပိုင်းအဖျားတို့နှင့် ထိတွေ့လျှင် زَاءٌ ۔ سِيْنٌ ۔ صَادٌ တို့ထွက်သည်။၎င်းအက္ခရာသုံးလုံးကို صَفِيْرِيَّةٌ ဟုခေါ်သည်။

➡ ❹ شَفَتَانُ အကြောင်း

အမေး ✍ شَفَتَانُ တွင် مَخْرَجٌ မည်မျှရှိပြီး၎င်းမှအက္ခရာမည်မျှထွက်သနည်း။

အဖြေ ✍ شَفَتَانُ တွင် مَخْرَجٌ နှစ်ခုရှိပြီး၎င်းမှအက္ခရာ(၄) လုံးထွက်ပါသည်။

➨ اَلثَّنَايَاالْعُلْيَا သွားအဖျားနှင့် အောက်နှုတ်ခမ်းတို့ ထိတွေ့လျှင် فَاءٌ ထွက်သည်။

➨ နှုတ်ခမ်းနှစ်ခုကြားမှ حُرُوْفُ الْمَدَّةُ မဟုတ်သော وَاوٌ-يَاءٌ နှင့် مِيْمٌ တို့ထွက်သည်။ ၎င်းအက္ခရာလေးလုံးကို شَفَوِيَّةٌ ဟုခေါ်ပါသည်။

➥ ❺ اَلْخَيْشُوْمُ အကြောင်း

အမေး ✍ اَلْخَيْشُوْمُတွင်مَخْرَجٌမည်မျှရှိပြီး၎င်းမှအက္ခရာမည်မျှထွက်သနည်း

အဖြေ ✍ اَلْخَيْشُوْمُ တွင် مَخْرَجٌ တစ်ခုရှိပြီး ၎င်းမှ حُرُوْفُ الْغُنَّةُ နှာသံနှင့် ဖတ်ရသော အက္ခရာများ ထွက်သည်။

ꕥꕥ



# သင်ခန်းစာ (၆)

## ❦ تَفْخِيْمٌ ပြည့်ပြည့်တုတ်တုတ်ဖတ်ခြင်း နှင့် تَرْقِيْقٌ ပေါ့ပေါ့ပါးပါးဖတ်ခြင်းအကြောင်း ❦

အမေး ✍ تَفْخِيْمٌ နှင့်ဖတ်ရသော အက္ခရာမည်မျှရှိသနည်း။

အဖြေ ✍ تَفْخِيْمٌ နှင့်ဖတ်ရသော အက္ခရာ (၇) လုံးရှိသည်။ ၎င်းတို့မှာ.......
خَاءٌ-صَادٌ-ضَادٌ-طَاءٌ-ظَاءٌ-غَيْنٌ-قَافٌ ( خُصَّ ضَغْطٍ قِظْ )ဟူ၍အလွယ်မှတ်သား
နိုင်သည်။ ၎င်းအက္ခရာများကို اَلْحُرُوْفُ الْمُسْتَعْلِيَةُ ဟုခေါ်သည်။

အမေး ✍ تَرْقِيْقٌ ဖတ်ရသောအက္ခရာမည်မျှရှိသနည်း။

အဖြေ ✍ اَلْحُرُوْفُ الْمُسْتَعْلِيَةُ အပြင်ကျန်အက္ခရာများကို تَرْقِيْقٌ လုပ်၍
ဖတ်ရသည်။ ၎င်းအက္ခရာများကို اَلْحُرُوْفُ الْمُسْتَفِلَةُ ဟုခေါ်ပါသည်။

သို့သော် الله ၏ لَامٌ နှင့် رَاءٌ တို့အားတစ်ခါတစ်ရံ تَفْخِيْمٌ ဖတ်၍
တစ်ခါတစ်ရံ تَرْقِيْقٌ နှင့် ဖတ်ရလေသည်။

ꕥꕥꕥꕥ

❍ اللّٰه ၏ لَامٌ အား تَفْخِيْمٌ နှင့် تَرْقِيْقٌ လုပ်နည်း။

① အကယ်၍ اللّٰه ၏ لَامٌ အလျှင်၌ فَتْحَةٌ သို့မဟုတ် ضَمَّةٌ ရှိလျှင် تَفْخِيْمٌ လုပ်၍ဖတ်ရမည်။ ဥပမာ ⇒ اَللّٰهُمَّ رَفَعَهُ اللّٰهُ اَرَادَ اللّٰهُ

② အကယ်၍ اللّٰه ၏ لَامٌ အလျှင်၌ كَسْرَةٌ ရှိလျှင် تَرْقِيْقٌ လုပ်၍ဖတ်ရမည်။

ဥပမာ ⇒ قُلِ اللّٰهُمَّ بِسْمِ اللّٰهِ

③ اللّٰه ၏ لَامٌ မှ လွဲ၍ ကျန်ရှိသော لَامٌ အားလုံးကို تَرْقِيْقٌ လုပ်၍ဖတ်ရမည်။

ဥပမာ ⇒ كُلَّهٗ مَاوَلّٰهُمْ

မှတ်ချက် ☞ اللّٰه ၏အက္ခရာတွင် ပါသော لَامٌ နှစ်ခုစလုံးကို تَفْخِيْمٌ နှင့် ဖတ်ရမည်။

ഈജ്ഞ

## သင်ခန်းစာ (၇)

رَاءٌ အက္ခရာအား تَفْخِيْمٌ နှင့် تَرْقِيْقٌ လုပ်နည်း

❒ رَاءٌ အက္ခရာအပေါ် فَتْحَةٌ သို့မဟုတ် ضَمَّةٌ ရှိလျှင် تَفْخِيْمٌ လုပ်၍ ဖတ်ရမည်။ ဥပမာ ⇒ رَبَّكَ رُبَمَا

အကယ်၍ رَاءٌ ၏အောက်၌ كَسْرَةٌ ရှိလျှင် تَرْقِيْقٌ နှင့်ဖတ်ရမည်။

ဥပမာ ⇒ رِجَالٌ

❒ رَاءٌسَاكِنَةٌ ၏အလျှင် فَتْحَةٌ (သို့) ضَمَّةٌ ရှိလျှင် تَفْخِيْمٌ နှင့်ဖတ်ရမည်။

ဥပမာ ⇒ بَرْقٌ يُرْزَقُوْنَ

အကယ်၍ رَاءٌسَاكِنَةٌ ၏ အလျှင် كَسْرَةٌ ရှိလျှင် تَرْقِيْقٌ လုပ်၍ဖတ်ရမည်။

ဥပမာ ⇒ فِرْعَوْنَ

❒ အကယ်၍ رَاءٌسَاكِنَةٌ ၏အလျှင် كَسْرَةٌعَارِضِيَّةٌ (ယာယီكَسْرَةٌ)ရှိလျှင် تَفْخِيْمٌ လုပ်၍ ဖတ်ရမည်။ ဥပမာ ⇒ اِرْجِعُوْا

မှတ်ချက် ☞ كَسْرَةٌعَارِضِيَّة နှင့် كَسْرَةٌأَصْلِيَّةٌ (မူရင်းكَسْرَةٌ)အား အရဗီစာပေ တက်ကျွမ်းမှ သာလျှင်ခွဲခြားသိနိုင်ပါသည်။

❒ အကယ်၍ رَاءٌسَاكِنَةٌ နှင့် كَسْرَةٌသည် كَلِمَةٌ တစ်ခုထဲတွင်အတူမရှိပဲ رَاءٌسَاكِنَةٌ ၏ အလျှင် ဒုတိယစာလုံး၌ كَسْرَةٌ ရှိလျှင်လည်း تَفْخِيْمٌ လုပ်၍ဖတ်ရမည်။

ဥပမာ ⇒ اَمِ ارْتَابُوا اِنِ ارْتَبْتُمْ رَبِّ ارْجِعُوْنِ

❒ အကယ်၍ رَاءٌسَاكِنَةٌ ၏အလျှင် كَسْرَةٌأَصْلِيَّةٌ ရှိပြီး ၎င်း رَاءٌ ၏နောက် كَلِمَةٌ တစ်ခု ထဲ၌ اَلْحُرُوْفُ الْمُسْتَعْلِيَّةُ ရှိလျှင်လည်း تَفْخِيْمٌ လုပ်၍ဖတ်ရမည်။

ဥပမာ ⇒ لَبِالْمِرْصَادُ فِرْقَةٌ اِرْصَادًا قِرْطَاسًا

မှတ်ချက် ☞ فِرْقَةٌ ၌ ရှိသော رَاءٌ အား تَفْخِيْمٌ နှင့် تَرْقِيْقٌ နှစ်မျိုးစလုံး ပြုနိုင်သည်။

❒ အကယ်၍ اَلْحُرُوْفُ الْمُسْتَعْلِيَةُ သည် رَاءٌسَاكِنَةٌ ၏ နောက်ဒုတိယ كَلِمَةٌ ၌ ရှိလျှင် تَرْقِيْقٌ လုပ်၍ ဖတ်ရမည်။ ဥပမာ ⇒ أَنْ أَنْذِرْ قَوْمَكَ ، فَاصْبِرْ صَبْرًا

❒ رَاءٌمَوْقُوْفَةٌ ခေါ် وَقْفٌ လုပ်ထားသော رَاءٌ ၏ အလျှင် فَتْحَةٌ နှင့် ضَمَّةٌ ရှိလျှင်လည်း تَفْخِيْمٌ လုပ်၍ ဖတ်ရမည်။ ဥပမာ ⇒ كَوْثَرْ دُسُرْ

အကယ်၍ رَاءٌمَوْقُوْفَةٌ ၏ အလျှင် كَسْرَةٌ ရှိလျှင် تَرْقِيْقٌ နှင့်ဖတ်ရမည်။

ဥပမာ ⇒ نَاصِرْ وَازْدُجِرْ

❒ အကယ်၍ رَاءٌمَوْقُوْفَةٌ ၏အလျှင် سَاكِنَةٌ ရှိပြီး ၎င်း سَاكِنَةٌ အလျှင် فَتْحَةٌ နှင့် ضَمَّةٌ ရှိ လျှင်လည်း تَفْخِيْمٌ လုပ်၍ ဖတ်ရမည်။

ဥပမာ ⇒ بِكُمُ الْعُسْرُ وَالْفَجْرُ مِنَ النَّارْ

အကယ်၍၎င်းအလျှင် كَسْرَةٌ ရှိလျှင် تَرْقِيْقٌ နှင့် ဖတ်ရမည်။

ဥပမာ ⇒ ذِیْ الذِّكْرْ فِكْرْ

❐ အကယ်၍ رَاءٌمَوْقُوْفَةٌ အလျှင် يَاءٌسَاكِنَةٌ ဖြစ်ပါက အမြဲတမ်း تَرْقِيْقٌ

နှင့်ဖတ်ရမည်။ ဥပမာ ⇒ قَدِيْرُ ـ بَصِيْرُ

❐ رَاءٌمَوْقُوْفَةٌ အလျှင် اَلْحُرُوْفُ الْمُسْتَعْلِيَةُ သည် سَاكِنَةٌ နှင့် ဖြစ်လျှင် ၎င်း

رَاءٌကို تَفْخِيْمٌ နှင့် تَرْقِيْقٌ နှစ်မျိုးစလုံးဖတ်နိုင်သည်။

ဥပမာ ⇒ عَيْنَ الْقِطْرُ مِصْرُ

မှတ်ချက် ☞ مِصْرُ ၌ ရှိသော رَاءٌ သည် မူလ၌ فَتْحَةٌ နှင့် ဖြစ်သည့်အတွက် تَفْخِيْمٌ လုပ်ခြင်းပို၍ကောင်းသည်။ الْقِطْرُ ၌ ရှိသော رَاءٌ သည်မူလ၌ كَسْرَةٌ နှင့် ဖြစ်သည့် အတွက် تَرْقِيْقٌ လုပ်ခြင်း ပို၍ကောင်းသည်။

❐ إِمَالَةٌ လုပ်ထားသော رَاءٌ ကိုလည်း تَرْقِيْقٌ နှင့်ဖတ်ရလေသည်။

ဥပမာ ⇒ بِسْمِ اللهِ مَجْرهَا

မှတ်ချက် ☞ إِمَالَةٌ ဆိုသည်မှာ أَلِفٌ ကို يَاءٌ ဘက်သို့ ၊ فَتْحَةٌ ကို كَسْرَةٌ ဘက်သို့ ယိမ်း၍ ဖတ်ခြင်းကိုခေါ်သည်။ ကျမ်းမြတ်ကုရ်အာန်တွင် سُوْرَةٌ هُوْد ၌ တစ်နေရာ သာပါရှိသည်။

❐ مُشَدَّدٌ رَاءٌ ခေါ် သဒ္ဒီးဒ် ရှိသော رَاءٌ အပေါ် ၌ فَتْحَةٌ နှင့် ضَمَّةٌ ရှိလျှင် تَفْخِيْمٌ နှင့် ဖတ်ရမည်။ ဥပမာ ⇒ وَلَيْسَ الْبِرُّ سِرًّا

အကယ်၍ كَسْرَةٌ ရှိလျှင် تَرْقِيْقٌ နှင့် ဖတ်ရမည်။ ဥပမာ ⇒ دُرِّىٌّ

မှတ်ချက် ☞ تَشْدِيْدٌ ရှိသော رَاءٌ အားဖတ်ရာ၌ رَاءٌ တစ်လုံးထဲဟုမှတ်ယူရမည်။ ၎င်းအား تَفْخِيْمٌ နှင့် تَرْقِيْقٌ ပြုနည်းမှာ رَاءٌ ၌ ရှိသော حَرَكَةٌ အတိုင်းပြုလုပ်ရမည်။

ꕤꕤꕤꕤ

## သင်ခန်းစာ (၈)

### تَفْخِيْمٌ ၏ အဆင့်အတန်း (၅) မျိုးအကြောင်း

❶ အကယ်၍ اَلْحُرُوْفُ الْمُسْتَعْلِيَةُ သည် أَلِفٌ နှင့်တွဲပြီး ၎င်း၏အလျှင် فَتْحَةٌ ရှိပါက تَفْخِيْمٌ လုပ်ခြင်းသည်ပထမအဆင့်ဖြစ်သည်။ဥပမာ⇒ قَالَ ، طَالَ

❷ အကယ်၍ اَلْحُرُوْفُ الْمُسْتَعْلِيَةُ သည် فَتْحَةٌ နှင့်သာဖြစ်လျှင် تَفْخِيْمٌ လုပ်ခြင်း ဒုတိယ အဆင့်ဖြစ်သည်။ ဥပမာ ⇒ اِنْطَلَقُوْا

❸ အကယ်၍ اَلْحُرُوْفُ الْمُسْتَعْلِيَةُ သည် ضَمَّةٌ နှင့် ဖြစ်လျှင် تَفْخِيْمٌ လုပ်ခြင်း တတိယ အဆင့်ဖြစ်သည်။ ဥပမာ ⇒ قُتِلَ

❹ အကယ်၍ اَلْحُرُوْفُ الْمُسْتَعْلِيَةُ သည် كَسْرَةٌ နှင့် ဖြစ်လျှင် تَفْخِيْمٌ လုပ်ခြင်း စတုတ္ထ အဆင့်ဖြစ်သည်။ ဥပမာ ⇒ ظِلٍّ

❺ အကယ်၍ اَلْحُرُوْفُ الْمُسْتَعْلِيَةُ သည် سَاكِنَةٌ နှင့်ဖြစ်လျှင် تَفْخِيْمٌ လုပ်ခြင်းသည် ပဉ္စမအဆင့် ဖြစ်သည်။ ဥပမာ ⇒ اَطْعَمَهُمْ

ᢀᢀᢀᢀ

## သင်ခန်းစာ (၉)

### ❦ تَشْدِيْدٌ ရှိသော نُوْنٌ နှင့် مِيْمٌ အကြောင်း ❦

❒ تَشْدِيْدٌ ရှိသော نُوْنٌ နှင့် مِيْمٌ အား ဖတ်ရွတ်ရာတွင် غُنَّةٌ နှာသံဖြင့်ငြီး၍ဖတ်ရလေသည်။

نّ ၏ ဥပမာ ⇒ فَآتُوْهُنَّ اُجُوْرَهُنَّ

مّ ၏ ဥပမာ ⇒ مِنَ الْغَمِّ إِمَّا

ᢀᢀᢀᢀ

## သင်ခန်းစာ (၁၀)

### ❦ تَنْوِيْنٌ နှင့် نُوْنٌ سَاكِنَةٌ အကြောင်း ❦

نُوْنٌ سَاكِنَةٌ နှင့် تَنْوِيْنٌ အားဖတ်နည်း (၄) မျိုးရှိသည်။

❶ إِظْهَارٌ ❷ إِدْغَامٌ ❸ إِقْلَابٌ ❹ إِخْفَاءٌ

① إِظْهَارٌ ဆိုသည်မှာ အက္ခရာကို မိမိ مَخْرَجٌ မှ غُنَّةٌ အသံမပါဘဲ ထုတ်၍ ဖတ်ခြင်း ကိုခေါ်သည်။

② إِدْغَامٌ ဆိုသည်မှာ سَاكِنَةٌ စာလုံးကို حَرَكَةٌ ရှိသော စာလုံး၌ သွင်းပြီး حَرْفٌ مُشَدَّدٌ ဖြစ်အောင်ပေါင်းဖတ်ခြင်းကိုခေါ်သည်။

③ إِقْلَابٌ ဆိုသည်မှာ حَرْفٌ တစ်ခု၏နေရာ၌အခြား حَرْفٌ တစ်ခုနှင့် ပြောင်းပြီး နှာသံနှော၍ဖတ်ခြင်းကိုခေါ်သည်။

④ إِخْفَاءٌ ဆိုသည်မှာ سَاكِنَةٌ نُوْنٌ နှင့် تَنْوِيْنٌ အား ဖတ်ရာတွင် လျှာကို نُوْنٌ ၏ مَخْرَجٌ ဘက်မရောက်စေဘဲ နှာသံနှော၍ဖတ်ခြင်းကိုခေါ်သည်။

➥ ❶ اِظْهَارٌ အကြောင်း

سَاكِنَةٌ نُوْنٌ နှင့် تَنْوِيْنٌ ၏နောက်တွင် اَلْحُرُوْفُ الْحَلْقِيَّةُ အက္ခရာများမှ အက္ခရာ တစ်လုံးလုံးလာလျှင် إِظْهَارٌ လုပ်ဖတ်ရမည်။

ဥပမာ ⇒ اَنْعَمْتَ   سَوَاءٌ عَلَيْهِمْ ۔

❒ ၎င်းကို اِظْهَارٌ حَلْقِيٌّ ဟုခေါ်သည်။

➥ ❷ اِدْغَامٌ အကြောင်း

اِدْغَامٌ နှစ်မျိုးရှိသည်။ ❍ اِدْغَامٌ مَعَ الْغُنَّةِ ❍ اِدْغَامٌ بِلاَ غُنَّةٌ

❍ اِدْغَامٌ مَعَ الْغُنَّةِ ဆိုသည်မှာ نُوْنٌ سَاكِنَةٌ နှင့် تَنْوِيْنٌ ၏နောက်တွင် အက္ခရာ ( يَرْمَلُوْنَ ) ی ـ ر ـ م ـ ل ـ و ـ ن (၆)လုံးမှ رَاءٌ နှင့် لاَمٌ အပြင် ကျန်အက္ခရာလေးလုံးလာပါက الْغُنَّة လုပ်၍ဖတ်ခြင်းကိုခေါ်သည်။

ဥပမာ ⇒ مَنْ يُّؤْمِنُ وَلِيٍّ وَّلَا نَصِيْرٌ

❍ اِدْغَامٌ بِلاَ غُنَّةٌ ဆိုသည်မှာ نُوْنٌ سَاكِنَةٌ နှင့် تَنْوِيْنٌ ၏ နောက်တွင် ی۔ر۔ م۔ل۔و۔ن(يَرْمَلُوْنَ) အက္ခရာများမှ رَاءٌ နှင့် لاَمٌ လာပါက الْغُنَّة မလုပ်ဘဲ ဖတ်ခြင်းကို ခေါ်ပါသည်။ ဥပမာ ⇒ مِنْ رَّبِّكَ ثَمَرَةٍ رِّزْقًا

မှတ်ချက် ☞ ကုရ်အာကျမ်းတော်မြတ်ရှိနေရာ(၄)နေရာတွင် اِدْغَامٌ ၏ ဥပဒေ ရှိသော်လည်း اِظْهَارٌ လုပ်၍ဖတ်ရလေသည်။

➥ ၎င်းကို اِظْهَارٌ مُطْلَقٌ ဟုခေါ်သည်။

၎င်းနေရာ (၄) နေရာမှာ دُنْيَا قِنْوَانٌ بُنْيَانٌ صِنْوَانٌ

၎င်းအက္ခရာ(၄)လုံးအား اِظْهَارٌ လုပ်ရခြင်းမှာ نُوْنٌ سَاكِنَةٌ ၏နောက် يَاءٌ နှင့် وَاوٌ သည် كَلِمَةٌ တစ်ခုထဲ၌အတူရှိသောကြောင့်ဖြစ်သည်။ اِدْغَامٌ ဆိုသည်မှာ كَلِمَةٌ (၂) ခု၌ ပြုလုပ်ရလေသည်။

➥ ❸ اِقْلَابٌ အကြောင်း

အကယ်၍ نُوْنٌ سَاكِنَةٌ နှင့် تَنْوِيْنٌ ၏နောက်တွင် بَاءٌ အက္ခရာ လာပါက نُوْنٌ سَاكِنَةٌ နှင့် تَنْوِيْنٌ အား مِيْمٌ အက္ခရာနှင့် ပြောင်းပြီး နုတ်ခမ်းနှစ်ခုကို အသာတကြည်ပိတ်ခါ နှာသံနှော၍ဖတ်ရလေသည်။

ဥပမာ ⇒ سَمِيْعٌۢ بَصِيْرٌ

➥ ❹ اِخْفَاءٌ အကြောင်း

အကယ်၍ نُوْنٌ سَاكِنَةٌ နှင့် تَنْوِيْنٌ ၏ နောက်တွင် اَلْحُرُوْفُ الْحَلْقِيَّةُ ၊ يَرْمَلُوْنَ နှင့် بَاءٌ အက္ခရာများအပြင် ကျန်အက္ခရာများလာပါက اِخْفَاءٌ လုပ်၍ ဖတ်ရလေသည်။ ဥပမာ ⇒ اَاَنْذَرْتَهُمْ قَوْمٍ ظَلَمُوْا

➥ ၎င်းကို اِخْفَاءٌ حَقِيْقِيٌّ ဟု ခေါ်သည်။

ဢဣဢဣ



# သင်ခန်းစာ (၁၀)

## مِيۡمٌ سَاكِنَةٌ အကြောင်း

مِيۡمٌ سَاكِنَةٌ ၌ ဖတ်နည်း (၃) မျိုးရှိသည်။

❶ إِدْغَامٌ ❷ إِخْفَاءٌ ❸ إِظْهَارٌ

❍ مِيۡمٌ سَاكِنَةٌ ၏နောက် مِيۡمٌ လာလျှင် إِدْغَامٌ လုပ်၍ ဖတ်ရမည်။

ဥပမာ ⇒ اَضَاءَ لَهُمْ مَّشَوْا فِيْهِ

➡ ၎င်းကို اِدْغَامُ الْمِثْلَيْنِ الصَّغِيْر ဟုခေါ်သည်။

❍ مِيۡمٌ سَاكِنَةٌ ၏နောက် بَاءٌ အက္ခရာလာပါက إِخْفَاءٌ مَعَ الْغُنَّةِ လုပ်၍ ဖတ်ရမည်။ ဥပမာ ⇒ تَرْمِيْهِمْ بِحِجَارَةٍ

➡ ၎င်းကို إِخْفَاءٌ شَفَوِيٌّ ဟု ခေါ်သည်။

إِخْفَاءٌ شَفَوِيٌّ ပြုလုပ်နည်းမှာ إِقْلَابٌ ပြုလုပ်ပုံကဲ့သို့ ဖြစ်သည်။

❍ مِيۡمٌ سَاكِنَةٌ နောက်တွင် بَاءٌ နှင့် مِيۡمٌ အက္ခရာတို့အပြင် ကျန်အက္ခရာများ လာပါက إِظْهَارٌ လုပ်၍ဖတ်ရမည်။ ဥပမာ ⇒ لَعَلَّكُمْ تَتَّقُوْنَ .

➡ ၎င်းကို إِظْهَارٌشَفَوِيٌّ ဟုခေါ်သည်။




ꕥꕥ

## သင်ခန်းစာ (၁၂)

### مَدٌّ အကြောင်း

مَدٌّ ဆိုသည်မှာ حُرُوْفُ الْمَدَّة နှင့် حُرُوْفُ اللِّيْن အက္ခရာများ၌အသံဆွဲ၍ ဖတ်ခြင်း ကို مَدٌّ ဟုခေါ်ပါသည်။

❍ حُرُوْفُ الْمَدَّة (၃)လုံးရှိပါသည်။၎င်းတို့မှာ .........

① أَلِفٌ ၏အလျှင် فَتْحَةٌ ရှိခြင်း ② وَاوٌسَاكِنَةٌ ၏အလျှင် ضَمَّةٌ ရှိခြင်း

③ يَاءٌسَاكِنَةٌ ၏အလျှင် كَسْرَةٌ ရှိခြင်း ဥပမာ ⇒ اُوْتِيْنَا

မှတ်ချက် ☞ **ခရားဇဗရ်** ၊ **ခရားဇေရ်** ၊ **အွလ်တာပေ့ရှ်** တို့သည်လည်း حُرُوْفُ الْمَدَّةْ ထဲ၌ပါဝင်လေသည်။ အဘယ့်ကြောင့်ဆိုသော် .....

❖ ـٰـ သည် أَلِفْ ၏ ကိုယ်စားဖြစ်သည်။

❖ ـــ သည် يَاءْسَاكِنَةٌ ၏ ကိုယ်စားဖြစ်သည်။

❖ ـٗـ သည် وَاوْسَاكِنَةٌ ၏ ကိုယ်စားဖြစ်သည်။

❍ حُرُوْفُ اللِّيْن နှစ်မျိုးရှိသည်။

① وَاوْسَاكِنَةٌ ၏အလျှင် فَتْحَةٌ ရှိခြင်း ၊ ဥပမာ ⇒ وَلَانَوْمٌ

② يَاءْسَاكِنَةٌ ၏အလျှင် فَتْحَةٌ ရှိခြင်း ၊ ဥပမာ ⇒ أَوْدَيْنٌ

## သင်ခန်းစာ (၁၃)

## ☙ مَدٌّ (၂) မျိုးရှိသည် ❧

① مَدٌّأَصْلِيٌّ မူရင်း နှင့်

② مَدٌّفَرْعِيٌّ ခွဲထွက် တို့ဖြစ်သည်။

➡ ❶ အကယ်၍ حُرُوْفُ الْمَدَّةْ ၏ နောက် هَمْزَةٌ နှင့် سَاكِنَةٌ မရှိလျှင် ၎င်း مَدّ ကို مَدٌّأَصْلِيٌّ-مَدٌّطَبْعِيٌّ-مَدٌّذَاتِيٌّ ဟုခေါ်သည်။

ဥပမာ ⇒ قِيْلَ قُوْلُوْا قَالَ

➡ ၎င်း مَدّ အားဆွဲသည့်အခန့်အမှန်းသည် أَلِفْ တစ်လုံးခန့်ဖြစ်သည်။

မှတ်ချက် ☞ ဖွင့်ထားသောလက်ကိုပိတ်ခြင်း ၊ ပိတ်ထားသောလက်ကို ဖွင့်ရာတွင် ကြာသောအချိန်ကာလသည် أَلِفٌ တစ်ခု၏အခန့်အမှန်းဟုယူဆရမည်။

➥ ❷ အကယ်၍ حُرُوْفُ الْمَدَّةُ ၏ နောက်တွင် هَمْزَةٌ နှင့် سَاكِنَةٌ ရှိလျှင် ၎င်း مَدٌّ ကို مَدٌّفَرْعِيٌّ ဟုခေါ်သည်။

❒ ၎င်း مَدٌّفَرْعِيٌّ သည် (၇) မျိုးရှိသည်။

① اَلْمَدُّالْمُتَّصِلُ ② اَلْمَدُّالْمُنْفَصِلُ ③ اَلْمَدُّالْعَارِضُ الْوَقْفِيُّ

④ مَدّالْعِوَض ⑤ اَلْمَدُّالاَّزِمُ ⑥ مَدُّاللّيْن ⑦ مَدّالْفَرْق

➥ ❶ اَلْمَدُّالْمُتَّصِلُ ဆိုသည်မှာ حُرُوْفُ الْمَدَّةُ ၏နောက် هَمْزَةٌ သည် كَلِمَةٌ တစ်ခု၌ အတူရှိခြင်းကိုခေါ်သည်။ ဥပမာ ⇒ سُوْٓءَ سِيْٓءَ جَآءَ

၎င်း مَدٌّ ကို مَدٌّوَاجِبٌ ဟုလည်းခေါ်သည်။ ၎င်း مَدٌّ အား وَقْفٌ လုပ်လျှင်လည်း مَدٌّ ပြုရလေသည်။၎င်း مَدٌّ အားဆွဲသည့်အခန့်အမှန်းမှာ أَلِفٌ (၃)လုံးမှ (၅)လုံးခန့် ထိဖြစ်သည်။

➥ ❷ اَلْمَدُّالْمُنْفَصِلُ ဆိုသည်မှာ حُرُوْفُ الْمَدَّةُ ၏နောက်ဒုတိယ كَلِمَةٌ ၌ اَلِفٌ ရှိခြင်းကိုခေါ်သည်။ ဥပမာ ⇒ اِنَّآاَعْطَيْنَا قُوْلُوْٓاٰمَنَّا

၎င်း مَدٌّ ကို مَدٌّجَائِزٌ ဟုလည်းခေါ်သည်။ ၎င်း مَدٌّ ၏ပထမ كَلِمَةٌ ၌ وَقْفٌ လုပ်လျှင် مَدٌّ ပြုရန်မလိုအပ်ပေ။ ၎င်း مَدٌّ အားဆွဲသည့် အခန့်အမှန်းမှာ أَلِفٌ နှစ်လုံးမှသုံးလုံး ၊ ၎င်း ငါးလုံးခန့်ထိဖြစ်သည်။

➥ ❸ اَلْمَدُّالْعَارِضُ الْوَقْفِيُّ ဆိုသည်မှာ حُرُوْفُ الْمَدَّةْ ၏နောက်တွင် ရှိသောအက္ခရာအား سَاكِنَةٌ ပြု၍ وَقْفٌ လုပ်ခြင်းကိုခေါ်သည်။

ဥပမာ ⇒ عِقَابْ۔خَالِدُوْنْ۔نَسْتَعِيْنْ ၎င်း مَدٌّ ၏ အခန့်အမှန်းသည် أَلِفٌ သုံးလုံးမှ ငါးလုံးထိဖြစ်သည်။

မှတ်ချက် ☞ أَلِفٌ သုံးလုံးမှငါးလုံးခန့်ဆွဲခြင်းကို طُوْلٌ ဟုခေါ်သည်။

أَلِفٌ နှစ်လုံးမှသုံးလုံး ၊ လေးလုံးခန့်ဆွဲခြင်းကို تَوَسُّطٌ ဟုခေါ်သည်။

أَلِفٌ တစ်လုံးခန့်ဆွဲခြင်းကို قَصْرٌ ဟုခေါ်သည်။

➥ ❹ مَدُّالْعِوَض ဆိုသည်မှာ၎င်း၏နောက်ဆုံးစာလုံးတွင် تَنْوِيْنٌ ရှိပြီး ၎င်းအပေါ် ၌ وَقْفٌ လုပ်ခြင်းကိုခေါ်သည်။ ဥပမာ ⇒ عَلِيْمًا۔نِسَاءً

မှတ်ချက် ☞ ၎င်း مَدٌّ အား وَقْفٌ လုပ်ရာတွင် تَنْوِيْنٌ အား أَلِفٌ နှင့်ပြောင်းပြီး فَتْحَةٌ နှင့်သာဖတ်ရလေသည်။၎င်း مَدٌّ ၏အခန့်အမှန်းမှာ مَدٌّطَبْعِيٌّ ကဲ့သို့ قَصْرٌ လုပ်ရ သည်။

➥ ❺ مَدٌّلَازِمٌ ဆိုသည်မှာ حُرُوْفُ الْمَدَّةْ နှင့် حُرُوْفُ اللِّيْن နောက်တွင် سُكُوْنٌ أَصْلِيٌّ (ခေါ်)မြဲသော سَاكِنَةٌ ရှိခြင်းကိုခေါ်သည်။၎င်း سَاكِنَةٌ သည် وَقْفٌ လုပ်သည်ဖြစ်စေ وَقْفٌ မလုပ်သည်ဖြစ်စေ အမြဲရှိနေခြင်းကိုခေါ်သည်။

❑ مَدٌّ لَازِمٌ (၅)မျိုးရှိသည်။

حُرُوْفُ الْمَدَّة ၌ مَدٌّ لَازِمٌ (၄)မျိုးရှိပြီး حُرُوْفُ اللِّيْن ၌တစ်မျိုးရှိသည်။

၎င်း مَدٌّ لَازِمٌ (၄)မျိုးမှာ ……

- اَلْمَدُّ اللَّازِمُ الْكَلِمِيُّ الْمُخَفَّفُ ❍
- اَلْمَدُّ اللَّازِمُ الْكَلِمِيُّ الْمُثَقَّلُ ❍
- اَلْمَدُّ اللَّازِمُ الْحَرْفِيُّ الْمُخَفَّفُ ❍
- اَلْمَدُّ اللَّازِمُ الْحَرْفِيُّ الْمُثَقَّلُ ❍

❍ اَلْمَدُّ اللَّازِمُ الْكَلِمِيُّ الْمُثَقَّلُ ဆိုသည်မှာ حُرُوْفُ الْمَدَّة ၏နောက် كَلِمَةٌ တစ်ခုထဲ၌ تَشْدِيْدٌ ရှိခြင်းကိုခေါ်သည်။ဥပမာ ⇒ اَلطَّآمَّةُ ضَآلِّيْنَ

❍ اَلْمَدُّ اللَّازِمُ الْكَلِمِيُّ الْمُخَفَّفُ ဆိုသည်မှာ حُرُوْفُ الْمَدَّة ၏နောက် كَلِمَةٌ တစ်ခုထဲ၌ سُكُوْنٌ أَصْلِيٌّ ရှိခြင်းကိုခေါ်သည်။ ဥပမာ ⇒ آٰلْئٰنَ

၎င်း مَدٌّ သည် سُوْرَةُ يُوْنُسَ ၌ နှစ်နေရာထဲသာပါရှိသည်။

❍ اَلْمَدُّ اللَّازِمُ الْحَرْفِيُّ الْمُثَقَّلُ ဆိုသည်မှာ مُقَطَّعَاتٌ အက္ခရာများတွင် حُرُوْفُ الْمَدَّة ၏ နောက် تَشْدِيْدٌ ရှိခြင်းကိုခေါ်သည်။

ဥပမာ ⇒ الٓمّٓ - الٓمّٓرٰ - الٓمّٓصٓ - طٰسٓمّٓ

❍ اَلْمَدُّ اللَّازِمُ الْحَرْفِيُّ الْمُخَفَّفُ ဆိုသည်မှာ مُقَطَّعَاتٌ အက္ခရာများတွင် حُرُوْفُ الْمَدَّة ၏နောက် سُكُوْنٌ أَصْلِيٌّ ရှိခြင်းကိုခေါ်ပါသည်။

ဥပမာ ⇒ يٰسٓ - نٓ - قٓ

❖ مَدُّلَازِمٌ လေးမျိုးလုံးကို (طُوْلٌ) أَلِفٌ သုံးလုံးမှငါးလုံး ၊ ခြောက်လုံးထိ ဆွဲနိုင်သည်။

➡ ❻ مَدُّاللِّيْنِ နှစ်မျိုးရှိသည်။❍ مَدُّاللِّيْنِ الْوَقْفِىُّ ❍ مَدُّاللِّيْنِ اللَّازِمُ

❍ مَدُّاللِّيْنِ الْوَقْفِىُّ ဆိုသည်မှာ حُرُوْفُ اللِّيْن ၏နောက် سُكُوْنٌ عَارِضِىٌّ ရှိခြင်းကိုခေါ်သည်။ ဥပမာ ⇒ حَذَرَ الْمَوْتْ وَالطَّيْرْ

➡ ၎င်း مَدٌّ ကို مَدُّاللِّيْنِ الْعَارِضْ ဟုလည်း ခေါ်သည်။

➡ ၎င်း سُكُوْنٌ عَارِضِىٌّ ဆိုသည်မှာယာယီမမြဲသော سَاكِنَةٌ ကို ခေါ်သည်။ ၎င်း سَاكِنَةٌ သည် وَقْفٌ လုပ်သောကြောင့်ဖြစ်ပေါ်လာလေသည်။ ၎င်း၏မူလအစသည် حَرَكَةٌ နှင့်ဖြစ်သည်။၎င်း مَدٌّ အား قَصْرٌ လုပ်ခြင်း ပို၍ ကောင်းသည်။

❍ مَدُّاللِّيْنِ اللَّازِمُ ဆိုသည်မှာ حُرُوْفُ اللِّيْن ၏နောက်တွင် سُكُوْنٌ أَصْلِىٌّ ရှိခြင်းကိုခေါ်သည်။ ဥပမာ ⇒ كٓهٰيٰعٓصٓ နှင့် عٓسٓقٓ حٰمٓ ၏ အက္ခရာတို့ဖြစ်သည်။

မှတ်ချက် ☞ ကုရ်အာန်ကျမ်းတော်မြတ်တွင် مَدُّاللِّيْنِ اللَّازِمُ နှစ်လုံးသာ ရှိပြီး ၎င်း مَدُّاللِّيْنِ اللَّازِمُ နှစ်လုံးသည် سُوْرَةُ مَرْيَمَ နှင့် سُوْرَةُ الشُّوْرٰى အစတွင်ရှိသည်။၎င်း مَدٌّ အားသုံးမျိုးစလုံးဆွဲနိုင်သည်။ طُوْلٌ လုပ်ခြင်း ပိုကောင်း၏ ။

➡ ❼ مَدُّ الْفَرَقِ ဆိုသည်မှာ إِسْتِفْهَامِيَّةٌ (အမေးဝါကျ) နှင့် خَبَرِيَّةٌ (သတင်းပေးဝါကျ) ကိုခွဲခြားပေးသော مَدٌّ ကိုခေါ်သည်။ ၎င်း مَدٌّ သည် قُرْآن တစ်အုပ်လုံးတွင် (၆) နေရာသာလာရှိသည်။

( ءَآلذَّكَرَيْنِ ) سُوْرَةُالْأَنْعَامُ တွင်နှစ်နေရာ( آلْـٰٔنَ ) سُوْرَةُيُوْنُسَ တွင်နှစ်နေရာ ( آٰللّٰهُ ) سُوْرَةُيُوْنُسَ နှင့် سُوْرَةُالنَّمْلِ တို့တွင်တစ်နေရာစီ လာရှိသည်။

❖ ၎င်း مَدٌّ အားဆွဲရသည့်အခန့်အမှန်းမှာ أَلِفٌ သုံးလုံးမှ ငါးလုံး၊ ခြောက်လုံးထိဖြစ်သည်။



# သင်ခန်းစာ (၁၄)

## إِدْغَامٌ အကြောင်း

إِدْغَامٌ (၃) မျိုးရှိသည်။

إِدْغَامُ الْمُتَقَارِبَيْنِ ③ إِدْغَامُ الْمُتَجَانِسَيْنِ ② إِدْغَامُ الْمُتَمَاثِلَيْنِ ①

❶ إِدْغَامُ الْمُتَمَاثِلَيْنِ ဆိုသည်မှာ မျိုးတူသော အက္ခရာနှစ်လုံး၌ إِدْغَامٌ လုပ်ခြင်းကိုခေါ်သည်။ ဥပမာ ⇒ يُدْرِكْكُمْ اِضْرِبْ بِعَصَاكَ

❷ إِدْغَامُ الْمُتَجَانِسَيْنِ ဆိုသည်မှာ مَخْرَجٌ ခြင်းတူပြီး صِفَةٌ ခြင်းမတူသော حَرْفٌ နှစ်လုံး ၌ إِدْغَامٌ လုပ်ခြင်းကိုခေါ်သည်။

ဥပမာ ⇒ أَثْقَلَتْ دَّعَوَ هَمَّتْ طَّائِفَتَانِ

❸ إِدْغَامُ الْمُتَقَارِبَيْنِ ဆိုသည်မှာ مَخْرَجٌ ခြင်းနီးပြီး صِفَةٌ ခြင်းမတူသော حَرْفٌ နှစ်လုံး၌ إِدْغَامٌ လုပ်ခြင်း ကိုခေါ်သည်။ ဥပမာ ⇒ أَلَمْ نَخْلُقكُّمْ

# သင်ခန်းစာ (၁၅)

## ❦ لَامُ التَّعْرِيْفِ အကြောင်း ❦

لَامُ التَّعْرِيْفِ ၌ ဖတ်နည်း (၂) မျိုးရှိသည်။ ① اِدْغَامٌ ② اِظْهَارٌ

❍ اِدْغَامٌ လုပ်ရသော အက္ခရာ (၁၄) လုံးရှိသည်။ ၎င်းအက္ခရာများမှာ....

سَتَزِدُ ضِلُّ نَظْرٍ صَثَطٍ شَذٍ ၎င်းကို اَلْحُرُوْفُ الشَّمْسِيّةُ ဟု ခေါ်သည်။

❍ اِظْهَارٌ လုပ်ရသော အက္ခရာ (၁၄) လုံးရှိသည်။ ၎င်း၏ အတိုချုပ်မှာ....

اِبْغِ حَجَّكَ وَخَفْ عَقِيْمَه ၎င်းကို اَلْحُرُوْفُ الْقَمَرِيَّةُ ဟု ခေါ်သည်။

❖ အကယ်၍ اَلْحُرُوْفُ الشَّمْسِيّةُ သည် اَلْ ၏နောက်တွင် تَشْدِيْدٌ နှင့် လာပါက اِدْغَامٌ လုပ်၍ဖတ်ရမည်။ ၎င်းကို اِدْغَامُ الشَّمْسِيَّةِ ဟု ခေါ်သည်။

ဥပမာ ⇒ اَلرَّحْمٰنُ ۔ اَلشَّمْسُ

❖ အကယ်၍ اَلْحُرُوْفُ الْقَمَرِيَّةُ သည် اَلْ ၏နောက်တွင် حَرَكَةٌ နှင့်လာပါက لَامٌ سَاكِنَةٌ ကို اِظْهَارٌ လုပ်၍ဖတ်ရလေသည်။ ၎င်းကို اِظْهَارٌقَمَرِىٌّ ဟုခေါ်သည်။ ဥပမာ ⇒ اَلْحَمْدُ رَبِّ الْعٰلَمِيْنَ

# သင်ခန်းစာ (၁၆)

## قَلْقَلَةٌ အကြောင်း

قَلْقَلَةٌ သည် (၅) လုံးရှိသည်။    قُطُبُ جَدٍّ

၎င်းအက္ခရာများအားဖတ်နည်း (၃) မျိုး ရှိသည်။

① အကယ်၍ اَلْقَلْقَلَة حُرُوْفُ သည် كَلِمَةٌ ၏နောက်ဆုံး၌ تَشْدِيْدٌ နှင့်ဖြစ်လျှင် قَلْقَلَةٌ ပြုလုပ်ခြင်းမှာပထမအဆင့်ဖြစ်သည်။

ဥပမာ ⇒ فِى الْحَجِّ    لَهَبٍ وَّتَبَّ

② အကယ်၍ اَلْقَلْقَلَة حُرُوْفُ သည် كَلِمَةٌ ၏နောက်ဆုံး၌ ـَـٍـُـٌـ တို့နှင့်ဖြစ်လျှင် اَلْقَلْقَلَةُ الْكُبْرى ပြုလုပ်၍ဖတ်ရလေသည်။

ဥပမာ ⇒ مِنَ الْعَذَابِ۔ عِقَابٍ۔ شَدِيْدٌ

③ အကယ်၍ اَلْقَلْقَلَة حُرُوْفُ သည် كَلِمَةٌ ၏အလယ်၌ سَاكِنَةٌ နှင့်ဖြစ်လျှင် اَلْقَلْقَلَةُ الصُّغْرى ပြုလုပ်၍ ဖတ်ရမည်။ ဥပမာ ⇒ يَجْعَلُوْنَ

မှတ်ချက် ☞ قَلْقَلَةٌ (၅) လုံးအနက် قَافٌ အက္ခရာအား قَلْقَلَةٌ လုပ်ခြင်းသည် وَاجِبٌ ဖြစ်သည်။ ကျန်အက္ခရာ (၄) လုံးသည် جَائِزٌ ဖြစ်သည်။

# သင်ခန်းစာ (၁၇)

## سَكْتَةٌ အကြောင်း

سَكْتَةٌ ဆိုသည်မှာ အသက်ရှူမပြတ်စေဘဲ အနည်းငယ်ရပ်တန့်ခြင်းကို ခေါ်သည်။ قرآن كريم တွင် (၄) နေရာ၌ سَكْتَةٌ ရှိသည်။

❶ سُوْرَةُ الْكَهْفِ ၌ عِوَجًا ۜ قَيِّمًا ၏ جِيْمٌ အပေါ် سَكْتَةٌ လုပ်ရသည်။

❷ سُوْرَةُ يٰسٓ ၌ مَرْقَدِنَا ۜ هٰذَا ၏ نُوْنٌ အပေါ် سَكْتَةٌ လုပ်ရသည်။

❸ سُوْرَةُ الْقِيَامَةِ ၌ مَنْ ۜ رَاقٍ ၏ نُوْنٌ အပေါ် سَكْتَةٌ လုပ်ရသည်။

❹ سُوْرَةُ الْمُطَفِّفِيْنَ ၌ بَلْ ۜ رَانَ ၏ لَامٌ အပေါ် سَكْتَةٌ လုပ်ရသည်။

ꕥꕥ

# သင်ခန်းစာ (၁၈)

## ❦ وَقْفٌ အကြောင်း ❦

وَقْفٌ ဆိုသည်မှာ كَلِمَةٌ တစ်ခု၏ နောက်ဆုံးအက္ခရာ၌ ဒုတိယ كَلِمَةٌ မစမီ အသက် တစ်ခါရှူမျှ ရပ်တန့်ခြင်းကိုခေါ်သည်။ وَقْفٌ သုံးမျိုး သုံးစား ရှိသည်။

① وَقْفٌ كَيْفِيَّةٌ အခြေနေအရပ်ရပ်ကြောင့်ရပ်တန့်ခြင်း။

② وَقْفٌ مَحَلِّ ရပ်တန့်ရမည့် လက္ခဏာပါ ၍ ရပ်တန့်ခြင်း။

③ وَقْفٌ لِاَحْوَالِ الْقَارِئ ဖတ်ရွတ်သူ၏ အခြေနေပေါ်၌ ရပ်တန့်ခြင်း။

➡ ❶ وَقْفٌ كَيْفِيَّةٌ သည် (၃) မျိုးရှိလေသည်။

❍ وَقْفٌ بِالرَّوْمُ ❍ وَقْفٌ بِالْإِشْمَامُ ❍ وَقْفٌ بِالْإِسْكَانُ

❍ وَقْفٌ بِالْإِسْكَانُ ဆိုသည်မှာ كَلِمَةٌ တစ်လုံး၏နောက်ဆုံး၌ ضَمَّةٌ-فَتْحَةٌ-كَسْرَةٌ တစ်လုံးလုံးကို سَاكِنَةٌ ပြု၍ရပ်တန့်ခြင်းကိုခေါ်သည်။

ဥပမာ ⇒ يَوْمِ الدِّيْنِ يَعْلَمُوْنَ

အကယ်၍အဆိုပါရပ်တန့်သောစာလုံးသည် سَاكِنَةٌ ရှိပြီးသားဖြစ်လျှင်၎င်းတွင် မည်သည့် حَرَكَاتٌ ၏ အသံမှမထွက်စေရ။ ဥပမာ ⇒ وَانْحَرْ

❍ وَقْفٌ بِالْإِشْمَامُ ဆိုသည်မှာ ضَمَّةٌ ပါရှိသောနောက်ဆုံးအက္ခရာအား سَاكِنَةٌ ပြုပြီး ၊ ၎င်း ضَمَّةٌ ဘက်သို့ နှုတ်ဟန်ပြ၍ ရပ်တန့်ခြင်းကို ခေါ်သည်။

ဥပမာ ⇒ نَسْتَعِيْنُ

❍ وَقْفٌ بِالرَّوْمُ ဆိုသည်မှာ كَلِمَةٌ တစ်ခု၏နောက်ဆုံးအက္ခရာရှိ ضَمَّةٌ နှင့် كَسْرَةٌ ကို سَاكِنَةٌ မပြုဘဲ حَرَكَةٌ ၏သုံးပုံတစ်ပုံခန့်ကို တိုးတိုးစွာဖတ်၍ ထုတ်ဖော်ရပ်တန့်ခြင်းကိုခေါ်သည်။ ဥပမာ ⇒ ذُوْانْتِقَامِ

မှတ်ချက် ☞ وَقْفٌ بِالْإِسْكَانُ သည် حَرَكَاتٌ သုံးမျိုးစလုံး၌ ပြုပိုင်သည်။

- وَقْفٌ بِالْإِشْمَامُ သည် ضَمَّةٌ တစ်ခုထဲ၌သာ ပြုပိုင်သည်။
- وَقْفٌ بِالرَّوْمُ သည် ضَمَّةٌ နှင့် كَسْرَةٌ တို့၌ ပြုနိုင်သည်။

❒ حَرَكَةٌعَارِضِيَّةٌ ခေါ် ယာယီသရများတွင်ရပ်တန့်သည့်အခါ၌ ၎င်း ၊ ရပ်တန့်သောအခါ هَاءٌ အသံထွက်သော ة အက္ခရာ၌ وَقْفٌ بِالرَّوْمُ နှင့် وَقْفٌ بِالْإِشْمَامُ မပြုနိုင်ပါ။ ဥပမာ ⇒ عَلَيْكُمُ الصِّيَامُ اَنْذِرِالنَّاسَ

❒ ဤဥပမာတွင် رَاءٌ အက္ခရာ နှင့် مِيْمٌ အက္ခရာတို့၌ရှိသော حَرَكَةٌ တို့သည် حَرَكَةٌعَارِضِيَّةٌ ခေါ် ယာယီသရများ ဖြစ်ကြပါသည်။

( **ဤသင်ခန်းစာကို အရဗီသဒ္ဒါအခြေခံရှိသောကလေးများကို သင်ကြားပေးပါ** )

➡ ❷ وَقْفٌ مَحَلِّيّ ခေါ် နေရာအားဖြင့် وَقْفٌ ပြုခြင်းသည် (၄) မျိုးရှိသည်။

❍ وَقْفٌ تَامٌّ ❍ وَقْفٌ كَافٍ ❍ وَقْفٌ حَسَنٌ ❍ وَقْفٌ قَبِيْحٌ

❍ وَقْفٌ تَامٌّ ဆိုသည်မှာ ဝါကျဆုံးသော နေရာ၌ ရပ်နားခြင်းကို ဆိုပေသည်။ ရပ်နားသောအခါ ရှေ့ဝါကျနှင့် ( အဓိပ္ပါယ်အားဖြင့် (သို့) အက္ခရာအားဖြင့် ) ပတ်သက်မှု အလျှင်းမရှိစေရပါ။ ဥပမာ ⇒ أُولَائِكَ هُمُ الْمُفْلِحُوْنَ

❍ وَقْفٌ كَافٍ ဆိုသည်မှာ ဝါကျပြည့်ဆုံသောနေရာ၌ ရပ်တန့်ခြင်းကို ဆိုလိုပြီး ၎င်းသည်မိမိရှေ့တွင်ရှိသောစာလုံးနှင့်အဓိပ္ပါယ်အားဖြင့်သာ ပတ်သက်မှုရှိခြင်းကိုဆိုပေသည်။ ဥပမာ ⇒ وَبِالْاٰخِرَةِهُمْ يُوْقِنُوْنَ

❍ وَقْفٌ حَسَنٌ ဆိုသည်မှာ ဤကဲ့သို့ဝါကျအဆုံး၌ရပ်ခြင်းကိုဆိုပေသည်။ ထို ရပ်သောစာလုံး၏ ရှေ့နောက် စာလုံးနှစ်လုံးသည် وَقْفٌ ပြုသောစာလုံးနှင့် အဓိပ္ပါယ်အားဖြင့် ၊ အက္ခရာအားဖြင့် ပတ်သက်နေခြင်းမျိုးကိုဆိုပေသည်။

ဥပမာ ⇒ اَلْحَمْدُلِلّٰهِ رَبِّ الْعٰلَمِيْنَ ⇒ ဝါကျတွင် اَلْحَمْدُلِلّٰهِ ၌ ရပ်တန့်ခြင်း ဖြစ်သည်။

❍ وَقْفٌ قَبِيْحٌ ဆိုသည်မှာဝါကျမဆုံးသေးသောနေရာ၌ရပ်ခြင်းကိုဆိုလိုပါသည်။ ဥပမာ ⇒ مٰلِكِ يَوْمِ الدِّيْنِ ⇒ ဝါကျရှိ مٰلِكِ စာလုံး၌ ရပ်တန့်ခြင်း ဖြစ်ပါသည်။

❖ وَقْفٌ تَامٌّ ပြုအပ်သောနေရာများမှာ ......

စူရဟ်အဆုံး၌လည်းကောင်း၊ရုကူအ်အဆုံး၌လည်းကောင်း၊အဖြစ်အပျက်အကြောင်းအရာ၊ဥပမာအဖုံဖုံတို့ကိုဆုံးစေသောအခါ၌လည်းကောင်း ၊ وَقْفٌ لَازِمٌ တို့၌လည်းကောင်း ရပ်နားရပါသည်။

❖ وَقْفٌ كَافٍ ၏လက္ခဏာအမှတ်အသားများမှာ ط ـ ج ـ ز ـ ص တို့ဖြစ်ပါသည်။ ၎င်းတို့သည် အာယသ်အပေါ်၌လည်းကောင်း ၊ အာယသ်မရှိဘဲလျှက်သော် လည်းကောင်း၊ လာလေ့ရှိပါသည်။

➡ ❸ وَقْفُ أَحْوَالِ الْقَارِئْ ကာရီ (ကေရာအသ် ဖတ်သူ) ၏အခြေနေအရ ရပ်နား ခြင်းသည် (၄) မျိုးရှိပါသည်။

❍ وَقْفٌ اِنْتِظَارِىٌّ ❍وَقْفٌ اِضْطِرَارِىٌّ ❍وَقْفٌ اِخْتِبَارِىٌّ ❍وَقْفٌ اِخْتِيَارِىٌّ ❍

❍ وَقْفٌ اِخْتِيَارِىٌّ ဆိုသည်မှာကာရီသည်မည်သည့်အကြောင်းမှမရှိဘဲ မိမိအလိုရှိသည့်အတိုင်းသက်တောင့်သက်သာရလိုခြင်းငှာ၊တစ်နေရာရာ၌ ရပ်နားခြင်းကိုဆိုပေသည်။ ထိုကဲ့သို့သောအခါ၌ ရပ်နားသည့်နေရာသည်ရပ်နားခွင့် ရှိ၊ မရှိကိုသတိပြုရန်အရေးကြီးပေသည်။ وَقْفٌ قَبِيْحٌ ဟူသော နေရာ၌ရပ်နားခွင့် မရှိပါ။

❍ وَقْفٌ اِخْتِبَارِىٌّ ဆိုသည်မှာ ဆရာကတပည့်ကို وَقْفٌ အကြောင်း စစ်ဆေးမေးမြန်းရန် ရပ်ခိုင်းခြင်းကိုဆိုပါသည်။

❍ وَقْفُ اِضْطِرَارِىٌّ ဆိုသည်မှာ ကာရီသည် စာမှားသွားခြင်း ၊ ချောင်းဆိုးခြင်း ၊ အသက်ရှူပြတ်သွားခြင်း စသည့် အကြောင်းတစ်စုံတစ်ရာကြောင့် ရပ်နားခြင်းကိုဆိုလိုပါသည်။

❍ وَقْفُ اِنْتِظَارِىٌّ ဆိုသည်မှာ ကာရီသည် سَبْعُ قِرَاءَةٌ နှင့် عَشْرُقِرَاءَةٌ ကေရာအသ်တို့ကို ပေါင်း၍ဖတ်ရန် တစ်နေရာတည်း အကြိမ်ကြိမ်ရပ်နား၍ ဖတ်ခြင်းကိုဆိုပါသည်။

📖 မှီးငြမ်းကျမ်းများ

جَمَالُ الْقُرْآنِ مِفْتَاحُ التَّجْوِيْدِ هَدِيَّةُ الْوَحِيْدِ فِىْ عِلْمِ التَّجْوِيْدِ

تَعْلِيْمُ التَّجْوِيْدِ فَوَائِدٌ مَكِّيَّةٌ


ရှာဖွေတင်ပြသူ

**မော်လဝီဟာဖွေ့ဇ်ကာရီမုဖ်သီ မိုဟမ္မဒ် အေလ်ယာစ် (အဇီဇီ+မဟ်မူဒီ)**

ဂျာမေ့အဟ်အတ်စ်မာအ် အလ်အစ္စလာမီယဟ်

ကျောင်းအုပ်ဆရာကြီး၊ သာစည်မြို့

မက္ကာဟ်ရှေ့မြို့တော်မှ လာရောက်ဖွင့်လှစ်သော
မန္တလေးမြို့ရှိ သင်္ဂါဝီးဒ်သင်တန်းတွင် စာရေးသူအား ချီးမြှင့်သော ဂုဏ်ထူးဆောင်
သင်တန်းဆင်းအောင်လက်မှတ်။

رابطة العالم الإسلامي
هيئة الإغاثة الإسلامية العالمية
لجنة القرآن الكريم




الدورة التدريبية لمدرسي حلقات تحفيظ القرآن الكريم

رقم:

التاريخ: / /

يشهد مكتب هيئة الإغاثة الإسلامية العالمية في —
بأن محمد الياس بن حبيب الله قد شارك في الدورة الاولى لمدرسي حلقات
تحفيظ القرآن الكريم في الفترة من ٨/٧/١٩٩٦م الى ٢٠/٧/١٩٩٦م
المنعقد في ماندلي/ميانمار (بورما)، وقد اجتاز الدورة بتقدير ممتاز
ونسأل الله التوفيق والنجاح.

رئيس لجنة القرآن الكريم
د/ عبد الله علي بصفر

مندوب لجنة القرآن الكريم
د/ عبد الله نذير مرزي

ختم الهيئة

مدير مكتب الهيئة